ကန့်သတ်



အကြောင်းအရာ။ ရာခိုင်ပြည်နယ်နှင့်ပြည်သွင်း မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Concrete Poles Co., Ltd. မှ ကွန်ကရစ်ကျောက်တိုင်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Myanmar Concrete Poles Co.,Ltd.<br>- ဦးခွန်ထီးဆိုင်<br>- ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ကွန်ကရစ်ကျောက်တိုင်များထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ် (၁၁၇)၊ ဦးပိုင်အမှတ် (၂၇၈/၁၊ ၂၇၆/၃၃၄)၊ တောင်ရင်းကျေးရွာအုပ်စု၊ စဥ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက် | - ဦးခွန်ထီးဆိုင်<br>- ၄ ဧက (၁၆၁၈၇.၄၄ စတုရန်းမီတာ)<br>- (၂၁၇'၆" x ၁၄၄' ၉") အကျယ်အဝန်းရှိ ပင်မဆောင် (၁)လုံး<br>- (၅၃' ၁၀" x ၂၂' ၇")အကျယ်အဝန်းရှိ ရေနွေးငွေ့စိမ်ကန်(၁)လုံး<br>- (၉၈' ၅" x ၁၉' ၈")အကျယ်အဝန်းရှိသွပ်နှင့်ကာရံထားသော နံရံ (၁) ခု<br>- ၃၆၅၉ ပေ အရှည်ရှိ ခြံစည်းရိုး (၁) ခု<br>- (၃၅' ၆" x ၃၀' x ၁၂') အကျယ်အဝန်းရှိ ဝန်ထမ်းအိမ်ရာ (၁)လုံး |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၂၀နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁နှစ် |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | ကျပ် ၅,၃၃၁.၀၉၅ သန်း(US$ ၀.၈၀၉ သန်းအပါအဝင်) |
| ၇။ | စီးပွားဖြစ်မစတင်မီ ထည့်ဝင်မည့်ပမာဏ | - ကျပ် ၃,၀၀၀.၀၀၀ သန်း |
| ၈။ | ဆောင်ရွက်မည့်နည်းစနစ် (ရောင်းချမည့်ပုံစံ) | - ပြည်တွင်း (၁၀၀) ရာခိုင်နှုန်း |
| ၉။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း(ပထမနှစ်) | |

မတည်ငွေ

| | ကျပ်(သန်း) | US$(သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|
| ငွေသား | ၃,၀၀၀.၀၀၀ | | ၃,၀၀၀.၀၀ |
| မြေတန်ဖိုး | ၁၈၉.၀၀၀ | | ၁၈၉.၀၀၀ |
| အဆောက်အဦ | ၇၄၁.၆၀၀ | | ၇၄၁.၆၀၀ |
| ပရိဘောဂပစ္စည်းများ | ၈.၀၅၀ | | ၈.၀၅၀ |
| စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၁၇၉.၂၄၇ | | ၁၇၉.၂၄၇ |
| ပစ္စည်းများ(ပြည်ပဝယ်) | | ၀.၈၀၉ | ၁,၂၁၃.၁၉၈ |
| စုစုပေါင်း | ၄,၁၁၇.၈၉၇ | ၀.၈၀၉ | ၅,၃၃၁.၀၉၅ |

| အမျိုးအမည် | ထုတ်လုပ်မှု (တိုင်) | တစ်တိုင် ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|
| 9 Meter Concrete Pole | 7824 | 91,500 |
| 10 Meter Concrete Pole | 15648 | 102,000 |
| 12 Meter Concrete Pole | 7824 | 156,000 |
| 15 Meter Concrete Pole | 1572 | 681,000 |
| 18 Meter Concrete Pole | 1572 | 910,500 |
| 22 Meter Concrete Pole | 1572 | 1,306,500 |

<table>
<tr>
<td>၁၀။</td>
<td>ဝန်ထမ်းခန့်ထားမှု</td>
<td>
<table>
<tr><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td>ဦးရေ</td><td>၆၂ ဦး</td><td>၂ ဦး</td></tr>
<tr><td>အမြင့်ဆုံးလစာ</td><td>ကျပ်၁,၀၀၀,၀၀၀/-</td><td>ကျပ်၂,၀၀၀,၀၀၀/-</td></tr>
<tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ်၂၀၀,၀၀၀/-</td><td></td></tr>
</table>
ပြည်တွင်းဝန်ထမ်းခန့်ထားရာတွင် အမြဲတမ်း ဝန်ထမ်း ၂၄ ဦး နှင့် နေ့စား ဝန်ထမ်း ၄၀ ဦးဖြင့် လုပ်ငန်းလည်ပတ်ရန်လျာထားကြောင်းတင်ပြထားပါသည်။
</td>
</tr>
<tr>
<td>၁၁။</td>
<td>CSR အစီအစဉ်</td>
<td>
- လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% ကိုအောက်ပါ အတိုင်း သုံးစွဲ မည်ဖြစ်ပါသည်-<br>
➢ ပညာရေးကဏ္ဍတွင် ၂၀%<br>
➢ ကျန်းမာရေးကဏ္ဍတွင် ၂၀%<br>
➢ လူမှုရေးကဏ္ဍတွင် ၂၀ %<br>
➢ သဘာဝဘေးအန္တရာယ်ကာကွယ်ရေးလုပ်ငန်းများတွင်၂၀%<br>
➢ ဒေသဖွံ့ဖြိုးတိုးတက်ရေးတွင် ၂၀%
</td>
</tr>
<tr>
<td>၁၂။</td>
<td>မီးဘေးကြိုတင် ကာကွယ်မှု စီမံချက်</td>
<td>
- စီမံချက်အား တင်ပြထားပြီး မီးအာမခံထားရှိခြင်း၊ အလျား (၅၃) ပေ (၁၀) လက်မ၊ အနံ (၁၁) ပေ (၃) လက်မ၊ အမြင့် (၁၁) ပေ (၃) လက်မ မီးသတ်ရေလှောင်ကန်ထားရှိခြင်း၊ အချက်ပေးစနစ်၊ မီးချိတ်၊ မီးကပ်၊ သဲပုံး၊ ရေပုံးများ၊ မီးသတ်ဆေးဘူးများထားရှိခြင်း၊ အရေးပေါ် မီးသတ် သင်တန်းပေးခြင်း တို့ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။
</td>
</tr>
<tr>
<td>၁၃။</td>
<td>သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအစီအစဉ်</td>
<td>
- ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အဆောက်အဦး အတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ စက်ရုံအဆောက်အဦ ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်း လုပ်ငန်းများ ကို အစဉ်ပြုလုပ်မည် ဖြစ်ကြောင်း၊ စက်ရုံအဆောက်အဦ မှ ထွက်ရှိမည့်
</td>
</tr>
</table>

| | | |
|---|---|---|
| | | ရေဆိုးများကို စနစ်တကျ စွန့်ပစ်မည် ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျ စွန့်ပစ်မည်ဖြစ်ကြောင်းနှင့် စက်ရုံ အဆောက်အဦများ အတွင်းမှ ဖြစ်ပေါ်လာမည့် အနံ့ဆိုးများ ပျောက်ကင်းစေရန် အပင်များစိုက်ပျိုး ထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | **လုပ်ငန်းခွင် သာယာရေး နှင့် သက်သာချောင်ချိရေး အစီအစဉ်** | - ဝန်ထမ်းအိမ်ယာထားရှိခြင်း၊ ဝန်ထမ်းများကို အကြို/အပို့ မော်တော်ယာဉ် စီစဉ်ပေးခြင်း၊ ဝန်ထမ်း ထမင်းစားဆောင် တည်ဆောက်ပြီး ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးခြင်း၊ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား/အမျိုးသမီး ခွဲခြား၍ အလုံအလောက် တည်ဆောက် ထားရှိခြင်း၊ အဆောက်အဦ အား လေဝင်လေထွက် ကောင်းစေရန် စီမံပေးခြင်း၊ ဝန်ထမ်းများ ခေါ်ယူရာ၌ လုပ်ငန်းနှင့် ပတ်သက်၍ အရည်အချင်းပြည့်မီသော ဝန်ထမ်းများခေါ်ယူ ခန့်ထားမည်ဖြစ်ပြီး၊ အတွေ့အကြုံ မရှိသော ဝန်ထမ်းများအား သင်တန်းကာလ (၃) လ သင်ကြားပို့ချပေးမည် ဖြစ်ကြောင်း၊ ဝန်ထမ်းများအား နှစ်စဉ် နှစ်သစ်ကူးကာလများတွင် ဆုကြေးပေးခြင်း၊ အခြားအစိုးရ ရုံးပိတ်ရက်များတွင် လုပ်ငန်းခွင်ဝင်ရသည့် ဝန်ထမ်းများအား အလုပ်သမား လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှ သက်မှတ်ထားသည့် အတိုင်း ခံစားခွင့် ပေးခြင်းတို့ကို ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။ |
| ၁၅။ | **အခြားတင်ပြချက်များ** | - ဝန်ထမ်း၊ အလုပ်သမားများ၏လုပ်ခ၊ လစာနှင့် ပတ် သက်၍ သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိတင်ပြ ထားပါ သည်။<br>- အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမားတို့ အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက်ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်း ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိတင်ပြထားပါသည်။<br>- မြေပိုင်ဆိုင်မှုအထောက်အထား အဖြစ် ဦးခွန်ထီးဆိုင် အမည်ဖြင့် ကွန်ကရစ်လုပ်ငန်း ဆောင်ရွက်ရန် အတွက် |

| | | |
|---|---|---|
| | | အခြားနည်းအသုံးပြုခွင့် ရရှိထားသည့် မိတ္တူ ပူးတွဲ တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်တည်နေရာပြ မြေပုံနှင့် ဆောက်လုပ်မည့် အဆောက်အဦ ပုံစံ(မိတ္တူ) တင်ပြထားပါသည်။<br>- လုပ်ငန်းသုံး စက်ပစ္စည်းအချို့အား ပြည်ပမှ ဝယ်ယူမည် ဖြစ်ပါသည်။<br>- ဝန်ကြီးဌာနများမှ တင်ဒါခေါ်ယူမည့် လျှပ်စစ်တိုင်များ၊ ဆက်သွယ်ရေးတိုင်များအတွက်ထုတ်လုပ်မည် ဖြစ်ကြောင်း တင်ပြထား ပါသည်။<br>- ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်များနှင့် ရင်းနှီးမြှုပ်နှံသူ၏ မှတ်ပုံတင်၊ မိတ္တူများကို တင်ပြထား ပါသည်။ |
| ၁၆။ | **စိစစ်တင်ပြချက်** | - အဆိုပြုလုပ်ငန်း သည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့် တင်မည့် ကဏ္ဍတွင် ပါဝင်ပါသည်။<br>- ဖွံ့ဖြိုးတိုးတက်မှုဇုန် (၃) တွင် ပါဝင်သဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက်ထား နိုင်ပါသည်။<br>- မန္တလေးတိုင်းဒေသကြီးအတွင်း ကွန်ကရစ်ကျောက်တိုင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် အတွက် မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီမှ မြန်မာနိုင်ငံသား လုပ်ငန်း (၂) ခုကို အတည်ပြုမိန့် ထုတ်ပေးထားပါသည်။ |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ၂၂ / ၄၄ / ၀၃ ( မ-၃၀) ( ၇၁၄ /၂၀၁၉)

ရက်စွဲ ၊၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၂၇ ရက်။

## မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Concrete Poles Co., Ltd. မှ ကွန်ကရစ်ကျောက်တိုင်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ။**

၁။ Myanmar Concrete Poles Co.,Ltd. မှ ကွင်းအမှတ် (၁၁၇)၊ ဦးပိုင်အမှတ် (၂၇၈/၁၊ ၂၇၆/၃၃၄)၊ တောင်ရင်းကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်း ဒေသကြီးရှိမြေ ၄ ဧက (၁၆၁၈၇.၄၄ စတုရန်းမီတာ) မြေပေါ်တွင် ကွန်ကရစ်ကျောက်တိုင်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြ လာပါသည်။

၂။ ဦးခွန်ထီးဆိုင် အမည်ဖြင့် ကွန်ကရစ်လုပ်ငန်း ဆောင်ရွက်ရန် အခြားနည်းအသုံးပြုခွင့် ရရှိထားသည့်စာမိတ္တူ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်များ၊ ရင်းနှီး မြှုပ်နှံသူ၏ မှတ်ပုံတင် မိတ္တူများ ပူးတွဲတင်ပြထား ပါသည်။

၃။ တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၅,၃၃၁.၀၉၅ သန်း (US$ ၀.၈၀၉ သန်းအပါအဝင်) ဖြစ်ပြီး ရင်းနှီး မြှုပ်နှံမှု အသေးစိတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | မတည်ငွေ | | စုစုပေါင်း |
|---|---|---|---|---|
| | | ကျပ် (သန်း) | US$ (သန်း) | ကျပ် (သန်း) |
| ငွေသား | - | ၃,၀၀၀.၀၀၀ | | ၃,၀၀၀.၀၀ |
| မြေတန်ဖိုး | - | ၁၈၉.၀၀၀ | | ၁၈၉.၀၀၀ |
| အဆောက်အဦ | - | ၇၄၁.၆၀၀ | | ၇၄၁.၆၀၀ |
| ပရိဘောဂပစ္စည်းများ | - | ၈.၀၅၀ | | ၈.၀၅၀ |
| စက်ပစ္စည်း(ပြည်ပဝယ်) | - | ၁၇၉.၂၄၇ | | ၁၇၉.၂၄၇ |
| ပစ္စည်းများ (ပြည်ပဝယ်) | - | | ၀.၈၀၉ | ၁,၂၁၃.၁၉၈ |
| စုစုပေါင်း | - | ၄,၁၁၇.၈၉၇ | ၀.၈၀၉ | ၅,၃၃၁.၀၉၅ |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၆၂) ဦး နှင့် ပြည်ပဝန်ထမ်း(၂)ဦး ခန့်ထားဆောင်ရွက်မည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ်၂၀၀,၀၀၀/- နှင့် အမြင့်ဆုံး ကျပ်၁,၀၀၀,၀၀၀/-ဖြစ်ပြီး ပြည်ပဝန်ထမ်း တစ်ဦး၏လစာမှာ ကျပ် ၂,၀၀၀,၀၀၀/- ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းခန့်ထားရာတွင် အမြဲတမ်း ဝန်ထမ်း ၂၄ ဦး နှင့် နေ့စား ဝန်ထမ်း ၄၀ ဦးဖြင့် လုပ်ငန်းလည်ပတ်ရန် လျာထားကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်းမှထွက်ရှိလာမည့် ကုန်ချောများကို ပြည်တွင်း ၁၀၀ ရာခိုင်နှုန်း ရောင်းချမည် ဖြစ်ပြီး ပထမနှစ်၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်း မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| အမျိုးအမည် | ထုတ်လုပ်မှု (တိုင်) | တစ်တိုင် ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|
| 9 Meter Concrete Pole | 7824 | 91,500 |
| 10 Meter Concrete Pole | 15648 | 102,000 |
| 12 Meter Concrete Pole | 7824 | 156,000 |
| 15 Meter Concrete Pole | 1572 | 681,000 |
| 18 Meter Concrete Pole | 1572 | 910,500 |
| 22 Meter Concrete Pole | 1572 | 1,306,500 |

၇။ **စိစစ်တင်ပြချက်**

(က) အဆိုပြုမြေပေါ်တွင် (၂၁၇' ၆" x ၁၄၄' ၉") အကျယ်အဝန်းရှိ ပင်မဆောင် (၁) လုံး၊ (၅၃' ၁၀" x ၂၂' ၇") အကျယ်အဝန်းရှိ ရေနွေးငွေ့စိမ်ကန် (၁) လုံး၊ (၉၈' ၅" x ၁၉' ၈") အကျယ်အဝန်းရှိသွပ်နှင့်ကာရံထားသောနံရံ (၁)ခု၊ ၃၆၅၉ ပေ အရှည်ရှိ ခြံစည်းရိုး (၁) ခု၊ (၃၅' ၆"x ၃၀' x ၁၂') အကျယ်အဝန်းရှိ ဝန်ထမ်းအိမ်ရာ (၁)လုံး တို့ကို ဆောက်လုပ်မည် ဖြစ်ပါသည်။

(ခ) CSR အနေဖြင့် လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% ကိုအောက်ပါအတိုင်း သုံးစွဲမည်ဖြစ်ပါသည်-

- ပညာရေးကဏ္ဍတွင် ၂၀%
- ကျန်းမာရေးကဏ္ဍတွင် ၂၀%
- လူမှုရေးကဏ္ဍတွင် ၂၀ %
- သဘာဝဘေးအန္တရာယ်ကာကွယ်ရေးလုပ်ငန်းများတွင်၂၀%
- ဒေသဖွံ့ဖြိုးတိုးတက်ရေးတွင် ၂၀%

(ဂ) **မီးဘေးကြိုတင်ကာကွယ်ရေး** အနေဖြင့် စီမံချက်အား တင်ပြထားပြီး မီးအာမခံထားရှိခြင်း၊ အလျား (၅၃) ပေ (၁၀) လက်မ၊ အနံ (၁၁) ပေ (၃) လက်မ၊ အမြင့် (၁၁) ပေ (၃) လက်မ မီးသတ်ရေလှောင်ကန်ထားရှိခြင်း၊ အချက်ပေးစနစ်၊ မီးချိတ်၊ မီးကပ်၊ သဲပုံး၊ ရေပုံးများ၊ မီးသတ် ဆေးဘူးများထားရှိခြင်း၊ အရေးပေါ် မီးသတ်သင်တန်း ပေးခြင်း တို့ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဃ) **ပတ်ဝန်းကျင် ညစ်ညမ်းမှု** မရှိစေရန် အဆောက်အဦး အတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ စက်ရုံအဆောက်အဦ ပတ်ဝန်းကျင်အားသန့်ရှင်း ရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာ ကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည် ဖြစ်ကြောင်း၊ စက်ရုံအဆောက်အဦမှ ထွက်ရှိမည့် ရေဆိုးများကို စနစ်တကျ စွန့်ပစ်မည် ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသောအမှိုက်များကိုလည်း စနစ်တကျ စွန့်ပစ်မည်ဖြစ်ကြောင်းနှင့် စက်ရုံ အဆောက်အဦများအတွင်းမှ ဖြစ်ပေါ်လာမည့် အနံ့ဆိုးများ ပျောက်ကင်းစေရန် အပင်များစိုက်ပျိုး ထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) **လုပ်ငန်းခွင်သက်သာချောင်ချိရေးအနေဖြင့်** ဝန်ထမ်းအိမ်ယာထားရှိခြင်း၊ ဝန်ထမ်းများကို အကြို/အပို့ မော်တော်ယာဉ် စီစဉ်ပေးခြင်း၊ ဝန်ထမ်း ထမင်းစားဆောင်တည်ဆောက်ပြီး ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများဖြည့်ဆည်းပေးခြင်း၊ ရေချိုးခန်း နှင့် အိမ်သာကို အမျိုးသား/အမျိုးသမီး ခွဲခြား၍အလုံအလောက် တည်ဆောက်ထားရှိခြင်း၊ အဆောက်အဦအား လေဝင်လေထွက်ကောင်းစေရန် စီမံပေးခြင်း၊ ဝန်ထမ်းများ ခေါ်ယူရာ၌ လုပ်ငန်းနှင့် ပတ်သက်၍အရည်အချင်းပြည့်မီသော ဝန်ထမ်းများခေါ်ယူ ခန့်ထားမည်ဖြစ်ပြီး၊ အတွေ့အကြုံမရှိသော ဝန်ထမ်းများအား သင်တန်းကာလ (၃) လ သင်ကြားပို့ချပေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများအား နှစ်စဉ် နှစ်သစ်ကူးကာလများတွင် ဆုကြေးပေးခြင်း၊ အခြားအစိုးရ ရုံးပိတ်ရက်များတွင် လုပ်ငန်းခွင်ဝင်ရသည့် ဝန်ထမ်းများအား အလုပ်သမား လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှသက်မှတ်ထားသည့်အတိုင်း ခံစားခွင့်ပေးခြင်း တို့ကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

(စ) **ဝန်ထမ်းအလုပ်သမားများ၏ လုပ်ခ၊ လစာ နှင့်ပတ်သက်၍** သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာ ဆောင်ရွက်သွားမည်

ဖြစ်ကြောင်း၊ အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမား တို့အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက်ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါ သည်။

(ဆ) ပတ်ဝန်းကျင်တည်နေရာပြမြေပုံ နှင့် ဆောက်လုပ်မည့် အဆောက်အဦ ပုံစံ(မိတ္တူ) တင်ပြထားပါသည်။

(ဇ) လုပ်ငန်းသုံး စက်ပစ္စည်းအချို့အား ပြည်ပမှ ဝယ်ယူမည် ဖြစ်ပါသည်။

(ဈ) ဝန်ကြီးဌာနများမှ တင်ဒါခေါ်ယူမည့် လျှပ်စစ်တိုင်များ ဆက်သွယ်ရေးတိုင်များ အတွက် ထုတ်လုပ်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ည) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃) တွင် ပါဝင်သဖြင့် ဝင်ငွေခွန်ကင်း လွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက် ထားနိုင်ပါသည်။

(ဋ) မန္တလေးတိုင်းဒေသကြီးအတွင်း ကွန်ကရစ်ကျောက်တိုင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် အတွက် မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီမှ မြန်မာ နိုင်ငံသား လုပ်ငန်း (၂) ခုကို အတည်ပြုမိန့် ထုတ်ပေးထား ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ Myanmar Concrete Poles Co.,Ltd. မှ ကွန်ကရစ်ကျောက်တိုင်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(နွယ်နီဦး၊အတွင်းရေးမှူး)